


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ် (၁)၊သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း -၀၁-၆၅၈၁၂၈

ဖက်(စ်) -၀၁-၆၅၈၁၄၁

စာအမှတ်၊မရက-၃/ထွေ/၂၀၁၈( ၀၅၁ )

ရက်စွဲ၊ ၂၀၁၈ခုနှစ် နိုဝင်ဘာလ ၁၃ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**
**ကုန်သွယ်ရေးဦးစီးဌာန**
**ညွှန်ကြားရေးမှူးချုပ်**
**အကောက်ခွန်ဦးစီးဌာန**

အကြောင်းအရာ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ထုတ်ပေးခဲ့သည့် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် ပေးပို့ခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကော်မရှင်မှ ထုတ်လုပ်မှုကဏ္ဍဆိုင်ရာ Yoke Pyo Co., Ltd. အား အတည်ပြုမိန့်အမှတ် ၁၂၂/၂၀၁၈ (၈-၁၁-၂၀၁၈) ရက်စွဲဖြင့် တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့် ထုတ်ပေးခဲ့ပါသည်။

၂။ အဆိုပါကုမ္ပဏီ၏ အတည်ပြုမိန့်နှင့် ကော်မရှင်၏ ဆုံးဖြတ်ချက်(မိတ္တူ)တို့အား လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အတည်ပြုချက်(၁)စုံနှင့်အတူ **ပူးတွဲ** ပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန (ဘဏ္ဍာရေး)
ရုံးလက်ခံ/မျှောစာတွဲ

ရုံးတွင်းပေးစာ

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၂) မှ အတည်ပြုမိန့်ထုတ်ပေးခဲ့သည့် ကုမ္ပဏီ (၁) ခု၏ အတည်ပြုလွှာပေးပို့ခြင်းကိစ္စ**

၁။ ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၂) မှ ၈-၁၁-၂၀၁၈ ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ Yoke Pyo Company Limited အား အတည်ပြုမိန့်အမှတ် ၁၂၂/၂၀၁၈ (၈-၁၁-၂၀၁၈) ဖြင့် တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အတည်ပြုမိန့် ထုတ်ပေးခဲ့ပါသည်။

၂။ အဆိုပါကုမ္ပဏီ၏ Endorsement Application Form အပြည့်အစုံ၊ MIC Memo၊ အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မိတ္တူ)တို့အား အတည်ပြုလွှာနှင့်အတူ ပူးတွဲပေးပို့ပါသည်။

13/11/18

(စိုးမြင့်အောင်)
ညွှန်ကြားရေးမှူး

**ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကြီးကြပ်ရေးဌာနခွဲ** 13/11/2018 စိုးမြင့်အောင်

စာအမှတ်၊ ရက-၃/မ-permit/၂၀၁၈ ( ၀၄၉ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၁၃ ရက်

ရုံးတွင်းပေးစာ

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၂) မှ အတည်ပြုမိန့်ထုတ်ပေးခဲ့သည့် ကုမ္ပဏီ (၁) ခု၏ အတည်ပြုလွှာ ပေးပို့ခြင်းကိစ္စ**

၁။ ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၂) မှ ၈-၁၁-၂၀၁၈ ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ Yoke Pyo Company Limited အား အတည်ပြုမိန့်အမှတ် ၁၂၂/၂၀၁၈ (၈-၁၁-၂၀၁၈)ဖြင့် တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အတည်ပြုမိန့် ထုတ်ပေးခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီ၏ Endorsement Application Form အပြည့်အစုံ၊ အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မိတ္တူ)တို့အား အတည်ပြုလွှာနှင့်အတူ ပူးတွဲပေးပို့ပါသည်။

၁၂/၁၁/၁၈

(စိုးမြင့်အောင်)

ညွှန်ကြားရေးမှူး

**စစ်ကိုင်းတိုင်းဒေသကြီးဦးစီးမှူးရုံး**

စာအမှတ်၊ ရက-၃/န-ထွေ /၂၀၁၈( ၀၅၀ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၁၃ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာ လ ၁၂ ရက်

အကြောင်းအရာ။ **စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ရက်အား ကော်မရှင်သို့တင်ပြရန်ကိစ္စ**

၁။ ကျွန်တော်/ ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၄၅ အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းတည်ဆောက်မှု သို့မဟုတ် လုပ်ငန်းပြင်ဆင်မှုကာလပြီးစီးသည့်နေ့မှစ၍ ရက်ပေါင်း ၃၀ အတွင်း လုပ်ငန်းပြီးစီးကြောင်း ကော်မရှင်သို့တင်ပြရန်နှင့် နည်းဥပဒေ ၁၄၆ အရ ကုန်ထုတ်လုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှုလုပ်ငန်းတစ်ခုခု စီးပွားဖြစ်စတင်လုပ်ကိုင်သော နေ့ရက်သတ်မှတ်ပေးနိုင်ရေးအတွက် အောက်ဖော်ပြပါ သတ်မှတ်ရက်အတိုင်း ကော်မရှင်သို့ တင်ပြရမည်ကို သိရှိပါသည်-

(က) ပြည်ပသို့တင်ပို့သည့် ကုန်ထုတ်လုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတည်ဆောက်မှု သို့မဟုတ် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ပြင်ဆင်မှုကာလ ကုန်ဆုံးသည့်နေ့ရက်မှစ၍ ရက်ပေါင်း ၁၈၀ ထက် မကျော်လွန်ရန်။

(ခ) ပြည်တွင်းရောင်းချသည့် ကုန်ထုတ်လုပ်ငန်းများနှင့် ဝန်ဆောင်မှုလုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း တည်ဆောက်မှု သို့မဟုတ် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းပြင်ဆင်မှု ကာလ ကုန်ဆုံးသည့်နေ့ရက်မှစ၍ ရက်ပေါင်း ၉၀ ထက် မကျော်လွန်ရန်။

၂။ အထက်ပါသတ်မှတ်ရက်အတွင်း တင်ပြရန်ပျက်ကွက်ခဲ့ပါက ကော်မရှင်မှသတ်မှတ်သည့် စီးပွားဖြစ်စတင်ဆောင်ရွက်သည့် နေ့ရက်အတိုင်း လိုက်နာဆောင်ရွက်ရမည်ကို သိရှိနားလည်ပါကြောင်း ဝန်ခံကတိပြု အပ်ပါသည်။

ရင်းနှီးမြှုပ်နှံသူလက်မှတ်

အမည် ......ဒေါ်တင်နု..................

ရာထူး ......ဥက္ကဋ္ဌ..................

ဌာန/ ကုမ္ပဏီတံဆိပ်......



Form (5-A)

E000014

# THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

## ENDORSEMENT

Endorsement No. 122 / 2018 Dated 8 November 2018

This endorsement is issued by the Myanmar Investment Commission according to the section 25, sub-section (d) of the Myanmar Investment Law-

(1) Name of Investor U KYAW THET NAING

(2) Citizenship MYANMAR

(3) Residence Address NO.3/101, YANGYI AUNG STREET, WARD NO.3, SHWE BO TOWNSHIP, SHWE BO DISTRICT, SAGAING

(4) Name and Address of Principle Organization -

(5) Place of Incorporation -

(6) Type of business MANUFACTURING OF TRADITIONAL MEDICINE

(7) Place(s) of investment Project NO. C 5, 6, 7 & 8, SHWE BO INDUSTRIAL ZONE, SHWE BO TOWNSHIP, SHWE BO DISTRICT, SAGAING REGION

(8) Amount of Foreign Capital -

(9) Period for Foreign Capital to be brought in -

(10) Total Amount of Capital (Kyat) 1,355.406 MILLION (INCLUDING US $ 0.386MILLION)

(11) Construction Period 2 (TWO) YEARS

(12) Validity of Endorsement -

(13) Form of Investment WHOLLY MYANMAR OWNED

(14) Name of Company Incorporated in Myanmar YOKE PYO COMPANY LIMITED




Thaung Tun

(Thaung Tun)
Chairman



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# အတည်ပြုမိန့်

**အတည်ပြုမိန့်အမှတ်** ၁၂၂/၂၀၁၈     ၂၀၁၈ ခုနှစ် နိုဝင်ဘာလ 8 ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၂၅ (ဃ) အရ ဤအတည်ပြုမိန့်ကိုထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးကျော်သက်နိုင်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ်(၃/၁၀၁)၊ ရန်ကြီးအောင်လမ်း၊ အမှတ်(၃)ရပ်ကွက်၊ ရွှေဘိုမြို့နယ်၊ ရွှေဘိုခရိုင်၊ စစ်ကိုင်းမြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မြေကွက်အမှတ် C - ၅၊ ၆၊ ၇ နှင့် ၈၊ ရွှေဘိုစက်မှုဇုန်၊ ရွှေဘိုမြို့နယ်၊ ရွှေဘိုခရိုင်၊ စစ်ကိုင်းတိုင်းဒေသကြီး

(၈) **နိုင်ငံခြားမတည်ငွေရင်း ပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁,၃၅၅.၄၀၆ သန်း (အမေရိကန်ဒေါ်လာ ၀.၃၈၆သန်းအပါအဝင် စုစုပေါင်း ကျပ်တစ်ထောင့်သုံးရာငါးဆယ့်ငါးသန်းနှင့် လေးသိန်းခြောက်ထောင်ခန့်)

(၁၁) **တည်ဆောက်မှု/ ပြင်ဆင်မှုကာလ** ၂ နှစ်

(၁၂) **အတည်ပြုမိန့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည်** ရုပ်ပျိုကုမ္ပဏီလီမိတက်

Thaung Tun

**(သောင်းထွန်း)**

**ဥက္ကဋ္ဌ**

ကန့်သတ်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**


အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၈ စာအမှတ်၊မရက-၃/အ-၀၅၂/၂၀၁၈ ( ၀၄၆ )

🖷 ၀၁-၆၅၈၁၄၁ ရက်စွဲ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၆ ရက်


အကြောင်းအရာ။ **Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) ၏ တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း အတည်ပြုလျှောက်ထားလွှာအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ Yoke Pyo Co., Ltd. (ရုပ်ပျို ကုမ္ပဏီ လီမိတက်) ၏ ၂၀၁၈ ခုနှစ် စက်တင်ဘာ လ ၁၈ ရက် နေ့စွဲပါစာ

၁။ Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) မှ မြေကွက်အမှတ် C-၅၊ ၆၊ ၇နှင့်၈၊ ရွှေဘိုစက်မှုဇုန်၊ ရွှေဘိုမြို့နယ်၊ ရွှေဘိုခရိုင်၊ စစ်ကိုင်းတိုင်းဒေသကြီးတွင် တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းအား ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၂ရက်နေ့တွင် ကျင်းပ ပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Yoke Pyo Co., Ltd. (ရုပ်ပျို ကုမ္ပဏီလီမိတက်)အား တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ၁၂၂/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်)အနေဖြင့် ဤအတည်ပြုမိန့်အရ တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုမိန့်အရ **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

ကန့်သတ်

(ဂ) Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း(၂၁)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏တာဝန် ဝတ္တရားများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(ဃ) Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) လုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

(စ) Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(ဆ) Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဓ) Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့်ပုံစံဖြင့် တင်ပြရမည်။

၃။ Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅(ဃ)အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင် သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ (၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(သောင်းထွန်း)
ဥက္ကဋ္ဌ

**Yoke Pyo Co., Ltd. (ရုပ်ပျိုကုမ္ပဏီလီမိတက်)**

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
စစ်ကိုင်းတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ တိုင်းရင်းဆေးပညာဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
စစ်ကိုင်းတိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ရက်စွဲ။ ၂၆-၁၀-၂၀၁၈

# ရုပ်ပျိုကုမ္ပဏီလီမိတက် (Yoke Pyo Company Limited) နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့် အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်း ပြန်ကြားသည့် ရက်စွဲ/ကုမ္ပဏီမှ တင်ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | ၁၀-၉-၂၀၁၈ | | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခြင်း | ၁၈-၉-၂၀၁၈ | ၂၅-၉-၂၀၁၈ | |
| ၃ | စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ မှ သဘောထားပေးပို့ခြင်း | | ၂၇-၉-၂၀၁၈ | |
| ၄ | ကျန်းမာရေးနှင့် အားကစား ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခြင်း | ၁၈-၉-၂၀၁၈ | ၂၂-၁၀-၂၀၁၈ | ကွင်းဆင်းစစ်ဆေး မှုများ ဆောင်ရွက် ပြီးမှ သဘော ထားမှတ်ချက် ပြန်ကြားခြင်း ဖြစ်ပါသည်။ |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၂၀-၉-၂၀၁၈ | | |
| ၆ | ကုမ္ပဏီသို့ လက်ခံကြောင်း ပြန်ကြားခြင်း | ၂၆-၁၀-၂၀၁၈ | | |
| ၇ | အတည်ပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၂-၁၁-၂၀၁၈ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၅၂) ရက် | | |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၂)

PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ်/နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု |
|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ |
| ၁။ | Yoke Pyo Company Limited | တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း | ၂၈/၂၀၁၈ (၁၇-၉-၂၀၁၈) | - လုပ်ငန်းအတွက်အသုံးပြုမည့်ကုန်ကြမ်းနှင့် ကုန်ကြမ်းရယူမည့် အစီအစဉ် ပူးတွဲတင်ပြရန်။ | တင်ပြပြီး |
| | | | | - နှစ်အလိုက်ထုတ်လုပ်မှု အရေအတွက်၊ ရောင်းဈေးနှုန်းများ၊ ထုတ်လုပ်မည့် ပစ္စည်းဓာတ်ပုံများ၊ ကုန်အမှတ်တံဆိပ်နှင့် ထုတ်လုပ်ပုံအဆင့်ဆင့် ပူးတွဲတင်ပြရန်။ | တင်ပြပြီး |
| | | | | - ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများအတွက် HS Code၊ တင်သွင်းမည့်နိုင်ငံနှင့် စက်ပစ္စည်း တန်ဖိုးအား အမေရိကန်ဒေါ်လာဖြင့် ဖော်ပြပေးရန်။ | ပြင်ဆင်ပြီး |
| | | | | - ဝန်ထမ်းအင်အားစာရင်း နှစ်အလိုက် ဖော်ပြရန်။ | |
| | | | | - လုပ်ငန်း ဆောင်ရွက်မည့် မြေကွက်အမှတ်၊ အဆောက်အဦ အရေအတွက်၊ အကျယ်အဝန်း၊ Layout Plan နှင့် မြေအထောက်အထားများ ပူးတွဲပြရန်။ | တင်ပြပြီး |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Yoke Pyo Co., Ltd. မှ တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာတင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Yoke Pyo Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးကျော်သက်နိုင် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | | - ဦးကျော်သက်နိုင် (မြန်မာ) ၅၀ % |
| | | - ဒေါ်တင်နု (မြန်မာ) ၅၀ % |
| | လုပ်ငန်းအမျိုးအစား | - တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်စီ-၅၊ ၆၊ ၇နှင့်၈၊ ရွှေဘိုစက်မှုဇုန်၊ ရွှေဘိုခရိုင်၊ ရွှေဘိုမြို့နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဒေါ်တင်နု |
| | မြေ/အဆောက်အဦ | - မြေဧရိယာ ၄.၉၆၇ဧက (၂၀,၁၀၀.၇၅စတုရန်းမီတာ) |
| | အကျယ်အဝန်း | ၉၉ပေ x ၇၂ပေ အကျယ် ၂ထပ်အဆောက်အဦ ၁လုံး<br>၁၈၄ပေx ၁၈၃ပေ အကျယ် ၃ထပ်အဆောက်အဦ ၁လုံး<br>၃၀ပေx ၃၀ပေ အကျယ် ၁ထပ်အဆောက်အဦ ၁လုံး<br>၉၀ပေ x ၆၀ပေ အကျယ် ပရဆေးဥယျာဉ် |
| | နှစ်စဉ်မြေ/အဆောက်အဦ ငှားရမ်းခ | - ရင်းနှီးမြှုပ်နှံသူ မြန်မာနိုင်ငံသား ဒေါ်တင်နု၏ ကိုယ်ပိုင်မြေတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြစ်ပါသည်။ |
| ၄။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၂နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | ကျပ် ၁,၃၅၅.၄၀၆ သန်း(US $ ၀.၃၈၆သန်းအပါအဝင်) |
| | ထည့်ဝင်သည့်အမျိုးအစား | - **ကျပ် (သန်း)** |
| | ငွေသား | ၅၀.၀၀၀ |
| | စက်ပစ္စည်း(ပြည်ပ) | ၅၈၄.၄၃၉ (US$ ၀.၃၈၆သန်း) |
| | စက်ပစ္စည်း(ပြည်တွင်း) | ၁၉.၉၆၇ |
| | အဆောက်အဦကုန်ကျစရိတ် | ၇၀၁.၀၀၀ |
| | **စုစုပေါင်း** | **၁,၃၅၅.၄၀၆** |
| ၆။ | ရောင်းချမည့်နည်းစနစ် | - ၁၀၀% ပြည်တွင်းရောင်းချခြင်း |

| | | |
|---|---|---|
| ၇။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (ပထမနှစ်) | **အမျိုးအစား** / **ထုတ်လုပ်မှု (ဘူး)** / **ရောင်းဈေးနှုန်း (ကျပ်/ဘူး)**<br>- ချောင်းဆိုးပျောက်ဆေးရည် ၂၀,၀၀၀ ၃,၀၀၀<br>- ဆီးချိုကျဆေး ၂၀,၀၀၀ ၁,၀၀၀<br>- လေငန်းစကြံဆေး ၂၀,၀၀၀ ၂,၀၀၀<br>- ဆီးဆေးညို ၂၀,၀၀၀ ၁,၀၀၀<br>- မန်းဆေးတောင့် (သောက်ဆေး) ၂၀,၀၀၀ ၁,၀၀၀<br>- အနုမြူမန်းဆေး (လိမ်းဆေး) ၂၀,၀၀၀ ၅၀၀ |
| ၈။ | အခြားတင်ပြချက် | **ပြည်တွင်း** / **ပြည်ပ**<br>**ဝန်ထမ်းဦးရေ** ၇၀ -<br>**အမြင့်ဆုံးလစာ** ကျပ် ၃၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၄၄,၀၀၀<br>၁US $ = ၁၅၇၀ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။<br>- Yoke Pyo Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ်-၃၄၂၉/၂၀၁၂-၂၀၁၃(၂၀-၁၁-၂၀၁၂) နှင့် ငွေကြေးအထောက်အထားအဖြစ် ဦးကျော်သက်နိုင်အမည်ဖြင့် ရာဝတီဘဏ်တွင် ၁၉-၉-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၇၈,၆၁၀,၂၆၀.၆၃ ဦးကျော်သက်နိုင်နှင့် ဒေါ်တင်နုတို့၏ ရာဝတီဘဏ်တွင် ၁၂-၉-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၈,၂၂၁,၈၃၄.၇၂ တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ Corporate Social Responsibility (CSR) အတွက်ဆောင်ရွက်မည့်အစီအစဉ်နှင့် မီးဘေးကာကွယ်ရေး ဆောင်ရွက်ထားရှိမှုအစီအစဉ်များ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၉။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် အမိန့်ကြော်ငြာစာအမှတ် (၁၃/၂၀၁၇) အရ ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 2100 တွင် အကျုံးဝင်ပါသည်။<br>- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် (၁၅/၂၀၁၇) အပိုဒ်(ဃ) အပိုဒ်ခွဲ(၉)အရ ကျန်းမာရေး နှင့် အားကစားဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့် လုပ်ငန်းဖြစ်ပြီး **တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်း လုပ်ငန်းပါ စံသတ်မှတ်ချက်များအတိုင်း ဆောင်ရွက်မည်ဆိုပါက ခွင့်ပြုနိုင်ပါကြောင်း** သဘောထားပြန်ကြားထားပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့်မြေနေရာအတွက် စက်မှုဇုန်စီမံခန့်ခွဲရေး ကော်မတီ၊ မုံရွာစက်မှုဇုန်ခွဲ(ရွှေဘို)မှ ထောက်ခံချက် တင်ပြထားပြီး၊ **စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၇/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးမှ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း** သဘောထားပြန်ကြားထားပါသည်။<br>- လုပ်ငန်းအတွက် အသုံးပြုမည့် ကုန်ကြမ်းစာရင်းနှင့် ကုန်ကြမ်း ရယူမည့် အစီအစဉ်၊ ထုတ်လုပ်မှုအဆင့်ဆင့်နှင့် ထုတ်လုပ်မည့် ပစ္စည်းဓာတ်ပုံများ ပူးတွဲတင်ပြထားပါသည်။<br>- စက်ပစ္စည်းများအား တရုတ်နိုင်ငံနှင့် ထိုင်ဝမ်နိုင်ငံတို့မှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/အ-၀၅၂/၂၀၁၈( ၀၄၅ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၂၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Yoke Pyo Co., Ltd. မှ တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးကျော်သက်နိုင် ၅၀%နှင့် ဒေါ်တင်နု ၅၀%ထည့်ဝင်၍ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Yoke Pyo Co., Ltd. က မြေကွက်အမှတ် စီ-၅၊ ၆၊ ၇နှင့်၈၊ ရွှေဘိုစက်မှုဇုန်၊ ရွှေဘိုမြို့နယ်၊ ရွှေဘိုခရိုင်၊ စစ်ကိုင်းတိုင်းဒေသကြီးရှိ မြေဧရိယာ(၄.၉၆၇)ဧက တွင် တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြု လျှောက်ထားလွှာနှင့်အတူ မြေဆိုင်ရာ အထောက်အထား၊ ထုတ်လုပ်သည့် လုပ်ငန်းစဉ်နှင့်ပစ္စည်း နမူနာဓာတ်ပုံများအား ပူးတွဲတင်ပြထားပါသည်။ အဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံသူ မြန်မာ နိုင်ငံသား ဒေါ်တင်နု၏ ကိုယ်ပိုင်မြေတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၁,၃၅၅.၄၀၆ သန်း(US $ ၀.၃၈၆ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ် (သန်း) |
|---|---|
| ငွေသား | ၅၀.၀၀၀ |
| စက်ပစ္စည်း(ပြည်ပ) | ၅၈၄.၄၃၉ (US$ ၀.၃၈၆သန်း) |
| စက်ပစ္စည်း(ပြည်တွင်း) | ၁၉.၉၆၇ |
| အဆောက်အဦကုန်ကျစရိတ် | ၇၀၁.၀၀၀ |
| **စုစုပေါင်း** | **၁,၃၅၅.၄၀၆ (US$ ၀.၃၈၆သန်း အပါအဝင်)** |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၇၀ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၄၄,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းမှထွက်ရှိသော တိုင်းရင်းဆေးဝါးအမျိုးမျိုးကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့်ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **အမျိုးအစား** | **ထုတ်လုပ်မှု (ဘူး)** | **ရောင်းဈေးနှုန်း (ကျပ်/ဘူး)** |
|---|---|---|
| - ချောင်းဆိုးပျောက်ဆေးရည် | ၂၀,၀၀၀ | ၃,၀၀၀ |
| - မန်းဆေးတောင့်(သောက်ဆေး) | ၂၀,၀၀၀ | ၁,၀၀၀ |
| - ဆီးချိုကျဆေး | ၂၀,၀၀၀ | ၂,၀၀၀ |
| - လေငန်းစကြ်ာဆေး | ၂၀,၀၀၀ | ၁,၀၀၀ |
| - ဆီးဆေးညို | ၂၀,၀၀၀ | ၁,၀၀၀ |
| - အနုမြူမန်းဆေး(လိမ်းဆေး) | ၂၀,၀၀၀ | ၅၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၈ခုနှစ် စက်တင်ဘာလ ၁၈ရက်နေ့တွင် ကျင်းပပြုလုပ်သည့် **စစ်ကိုင်းတိုင်းဒေသကြီး အစိုးရအဖွဲ့**၏ အစည်းအဝေးအမှတ်စဉ် (၁၇/၂၀၁၈) ဆုံးဖြတ်ချက်အရ ရုပ်ပျိုကုမ္ပဏီလီမိတက်က တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာမှုအပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။

၇။ **ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန**မှ ရုပ်ပျိုကုမ္ပဏီလီမိတက်က တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာမှုအပေါ် တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်း လုပ်ငန်းပါ စံသတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ခွင့်ပြုနိုင်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။

၈။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ** ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန် ပြန်ကြားထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် ဦးကျော်သက်နိုင် အမည်ဖြင့် ဧရာဝတီဘဏ်တွင် ၁၉-၉-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၇၈,၆၁၀,၂၆၀.၆၃ နှင့် ဦးကျော်သက်နိုင်နှင့်ဒေါ်တင်နု အမည်ဖြင့် ဧရာဝတီဘဏ်တွင် ၁၂-၉-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၈,၂၂၁,၈၃၄.၇၂ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၅/၂၀၁၇ အရ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

(ဃ) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် စက်တင်ဘာလ ၁၇ရက်နေ့တွင် ကျင်းပ ပြုလုပ်သော (၂၈/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ပါသည်။

(င) ဆေးဝါးအသစ် (၆)မျိုးအနက် (၂)မျိုးမှာ တိုင်းရင်းဆေးမှတ်ပုံတင်ရန် ဗဟိုတိုင်းရင်းဆေးဝါး ကြီးကြပ်မှုကော်မတီသို့ တင်ပြပြီးဖြစ်ကြောင်းနှင့် ကျန်ဆေးဝါး(၄)မျိုးမှာ မှတ်ပုံတင်ရန် ဆောင်ရွက်ဆဲဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ပျိုကုမ္ပဏီလီမိတက် (Yoke Pyo Co., Ltd.) က တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက် ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**စစ်ကိုင်းတိုင်းဒေသကြီး ၊ မုံရွာမြို့**

စာအမှတ် ၊ ၃/ ၆-၂(၆) / ( ၉၀၃ )ရင်းနှီးမြှုပ်နှံ
ရက်စွဲ၊၂၀၁၈ခုနှစ်၊စက်တင်ဘာလ ၂၅ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားပေးပို့ခြင်း**

ရည် ညွှန်း ချက်။ စစ်ကိုင်းတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၂၄.၈.၂၀၁၈)ရက်စွဲပါ စာအမှတ်၊စက-ရက/ရင်းနှီး(မ-ထွေ)/၂၀၁၈(၀၀၈၇)

၁။ စစ်ကိုင်းတိုင်းဒေသကြီး၊ရွှေဘိုခရိုင်၊ရွှေဘိုမြို့၊မြေကွက်အမှတ်(C-၇၊၈) စက်မှုဇုန်ရှိ မြေဧရိယာ(၂.၄၆၃)ဧကတွင် ရုပ်ပျိုတိုင်းရင်းဆေးဝါးထုတ်လုပ်ရေးကုမ္ပဏီမှ ငွေကျပ်(၁၆၅၆.၄၅၂) သန်းဖြင့် ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်နိုင်ရေးအတွက် စစ်ကိုင်းတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီရုံးသို့ တင်ပြလာကြောင်း၊ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ပုဒ်မ ၁၅၆(ခ)အရ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှသာ စိစစ်ရမည်ဖြစ်ကြောင်း၊မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရာတွင် စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားပါ ထည့်သွင်းတင်ပြရမည်ဖြစ်၍ ညွှန်ကြားမှုပြုနိုင်ပါရန် တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီမှရည်ညွှန်းစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၁၈.၉.၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော တိုင်းဒေသကြီးအစိုးရအဖွဲ့၏ Cabinet အစည်းအဝေးအမှတ်စဉ်(၁၇/၂၀၁၈) ဆုံးဖြတ်ချက်(၇)အရ ရုပ်ပျိုတိုင်းရင်းဆေးဝါးထုတ်လုပ်ရေးကုမ္ပဏီမှ ငွေကျပ်(၁၆၅၆.၄၅၂)သန်း ဖြင့် ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်ရန် တင်ပြလာမှုအပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပေးပို့အပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(စိုးဦး၊စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

မိတ္တူကို

ဝန်ကြီး၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊မုံရွာမြို့
Cabinet ဌာနခွဲ၊ စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့၊မုံရွာမြို့
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊မုံရွာမြို့
ရုပ်ပျိုတိုင်းရင်းဆေးဝါးထုတ်လုပ်ရေးကုမ္ပဏီ၊ရွှေဘိုမြို့
ရုံးလက်ခံ/မျှော



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန

## ဝန်ကြီးရုံး

စာအမှတ်၊ ၁မခ(က)၂၀၁၈(၄၇၄၇)/ ၁၅၈၅၇

ရက်စွဲ၊၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ( ၂၂ )ရက်



သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းအပေါ် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈-၉-၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက- ၃/ခ-၀၂၈/၂၀၁၈(၀၃၈)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသား ဦးကျော်သက်နိုင် ၅၀% နှင့် ဒေါ်တင်နု ၅၀ % ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Yoke Pyo Co., Ltd. မှ မြေကွက်အမှတ် စီ-၅၊ ၆၊ ၇ နှင့် ၈၊ ရွှေဘိုစက်မှုဇုန်၊ ရွှေဘိုမြို့နယ်၊ စစ်ကိုင်းတိုင်းဒေသကြီးရှိ မြေဧရိယာ(၄.၉၆၇)ဧကတွင် တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားတင်ပြလာပါသဖြင့် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ကုမ္ပဏီအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်(၁၅/၂၀၁၇) အပိုဒ်(ဃ) အမှတ်စဉ်(၈)၊ တိုင်းရင်းဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်းပါ စံသတ်မှတ်ချက်များအတိုင်း တိုင်းရင်းဆေးဝါးထုတ်လုပ်ရေးလုပ်ငန်းအား ဆောင်ရွက်မည်ဆိုပါက ခွင့်ပြုနိုင်ပါကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(စိန်ဝင်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

ညွှန်ကြားရေးမှူးချုပ်၊ တိုင်းရင်းဆေးပညာဦးစီးဌာန




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၆၁/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၂၅ ရက်

သို့

M-974
25/9/18

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Yoke Pyo Company Limited မှ တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၉-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ ခ-၀၂၈/ ၂၀၁၈(၀၃၉)

၁။ မြန်မာနိုင်ငံသား ဦးကျော်သက်နိုင် ၅၀% နှင့် ဒေါ်တင်နု ၅၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Yoke Pyo Co., Ltd. က မြေကွက်အမှတ်- စီ- ၅၊ ၆၊ ၇ နှင့် ၈၊ ရွှေဘိုစက်မှုဇုန်၊ ရွှေဘိုမြို့နယ်၊ ရွှေဘိုခရိုင်၊ စစ်ကိုင်းတိုင်းဒေသကြီးရှိ မြေဧရိယာ ၄.၉၆၇ ဧက (၂၀,၁၀၀.၇၃ စတုရန်းမီတာ) တွင်တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါ ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၂) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၂၀,၁၀၀.၇၃ စတုရန်းမီတာ) ပေါ်တွင် RC (၃)ထပ် အဆောက်အဦ (၁) လုံးတည်ဆောက်ခြင်း အပါဝင် စုစုပေါင်းအဆောက်အဦ (၂) လုံး အသုံးပြုကာ လုပ်ငန်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှာ မူလကတည်းကလုပ်ငန်း ဆောင်ရွက်နေသည့် လုပ်ငန်းဟောင်းဖြစ်ပြီး အဆောက်အဦအသစ် တည်ဆောက်ကာ ရင်းနှီးမြှုပ်နှံမှု တိုးချဲ့၍ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေပြန်လည်သန့်စင်သည့်စနစ်ကိုလည်း တည်ဆောက် တပ်ဆင်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Yoke Pyo Company Limited မှ တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများ တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့်ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများအား စနစ်တကျသိုလှောင်မှုမရှိပါက အနံ့အသက်များထွက်ရှိ၍ ပတ်ဝန်းကျင်ရှိပြည်သူများအား အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်မှုစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) ထုတ်လုပ်မှု လုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများကို အသုံးပြုဆောင်ရွက်ရသဖြင့် စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်နှင့် ဖိတ်စင်စက်သုံးဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(င) ဆေးဝါးထုတ်လုပ်သည့် လုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေများကို စနစ်တကျသန့်စင်ခြင်းမရှိဘဲ မြစ်၊ ချောင်းများနှင့်ရေမြောင်းများအတွင်းသို့ တိုက်ရိုက်စွန့်ပစ်ပါက ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်စေနိုင်ခြင်း၊ ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထု၊ လေထုကို ညစ်ညမ်းစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Yoke Pyo Company Limited မှ တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ် ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental**

Examination-IEE) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan - EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ စစ်ကိုင်းတိုင်းဒေသကြီး
ရုံးလက်ခံ




ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
တိုင်းဒေသကြီးဦးစီးမှူးရုံး၊ စစ်ကိုင်းတိုင်းဒေသကြီး
မုံရွာမြို့

☎ ၀၇၁-၂၆၂၇၄
🖷 ၀၇၁-၂၆၂၇၅

စာအမှတ် ၊စက-ရက/ရင်းနှီး(မ-ထွေ) /၂၀၁၈ (၀၄၈၉)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၇ ရက်

သို့

ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၂)
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

17.868
10/9/18

အကြောင်းအရာ။ **တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်လိုခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရှပ်ပိုျ ကုမ္ပဏီ လီမိတက်သည် တိုင်းရင်းဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရန် စစ်ကိုင်းတိုင်း ဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီရုံးသို့ တင်ပြလာပါသည်။

၂။ အဆိုပါလုပ်ငန်းသည် အမေရိကန် ဒေါ်လာ (၅) သန်းအောက် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း ဖြစ်သော်လည်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၁၅/၂၀၁၇) ဖြင့် ထုတ်ပြန်ထားသည့် သက်ဆိုင်ရာဝန်ကြီးဌာနများ (ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန) ၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဖြစ်ပါသည်။

၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၅၆ (ခ) အရ ကျန်းမာရေးနှင့် အားကစား ဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဖြစ်၍ ကော်မရှင် မှသာ စိစစ်နိုင်ရန် ပေးပို့တင်ပြအပ်ပါသည်။

၄။ ရှပ်ပိုျ ကုမ္ပဏီ လီမိတက်နှင့်စပ်လျဉ်း၍ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်မှာ ဦးကျော်သက်နိုင် (တယ်လီဖုန်းနံပါတ် ၀၉-၂၀၀၃၃၃၅) ဖြစ်ပါသည်။

**ပူးတွဲ- လုပ်ငန်းဆိုင်ရာအချက်အလက်များစာအုပ် (၁) အုပ်**

(သန်းဇော်ဦး)
တိုင်းဦးစီးမှူး

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

To investment -2

7

# YOKE PYO COMPANY LIMITED

First Priority on Ability and Reality










သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ် - ( စီမံ ) (တင်ပြစာ) ၁၀ / ၂၀၁၈ (၁၅၇)

ရက်စွဲ - ၂၀၁၈ ခုနှစ် ၊အောက်တိုဘာလ ( ၂၇ )ရက် ။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဆိုပြုစစ်ဆေးရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်များအား ပြန်လည်တင်ပြခြင်းကိစ္စ ။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ စာအမှတ်မရက-၃ /၈-၀၂၈ /၂၀၁၈ (၀၄၀) ၂၀၁၈ ခုနှစ်စက်တင်ဘာလ (၁၈)ရက် ရက်စွဲပါစာအရ -

၁။ အထက်အကြောင်းအရာပါကိစ္စအရ ရွှေဘိုမြို့ ရုပ်ပျိုကုမ္ပဏီလီမိတက် မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဆိုပြုချက်များ စိစစ်ရေးအဖွဲ့၏ အစည်းအဝေးဆုံးဖြတ်ချက်များအရ ဆောင်ရွက်ရန် လိုအပ်သည့် တင်ပြစာများကို အောက်ပါအတိုင်း ပြန်လည်တင်ပြအပ်ပါသည် ။

၂။ (က) ပုံစံ ၄(က) နှင့် လိုအပ်သော အထောက်အထားများ အား ပူးတွဲ တင်ပြအပ်ပါသည် ။

( ခ )လုပ်ငန်းအတွက် အသုံးပြုမည့် ကုန်ကြမ်းနှင့် ကုန်ကြမ်းရယူမည့် အစီအစဉ်ကို ပူးတွဲတင်ပြအပ်ပါသည် ။

( ဂ ) နှစ်အလိုက် ထုတ်လုပ်မှု အရေအတွက် ရောင်းဈေးနှုန်း ၊ ထုတ်လုပ်မည့် ပစ္စည်း ဓါတ်ပုံများ ကုန်အမှတ်တံဆိပ်နှင့် ထုတ်လုပ်ပုံ အဆင့်ဆင့်ကို ပူးတွဲ တင်ပြထားပါသည် ။

( ဃ ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများအတွက် HS Code တင်သွင်းမည့် နိုင်ငံနှင့် စက်ပစ္စည်းတန်ဖိုးအားUS $ ဖြင့် ပူးတွဲတင်ပြထားပါသည် ။

( င ) ပြည်တွင်း ဝယ်ယူမည့် စက်ပစ္စည်းစာရင်းနှင့် တန်ဖိုးများကိုလည်း တင်ပြထားပါသည် ။

( စ ) ဝန်ထမ်းအင်အား စာရင်းအား နှစ်အလိုက်တင်ပြထားပါသည် ။

( ဆ) လုပ်ငန်းဆောင်ရွက်မည့်မြေကွက်အမှတ် အဆောက်အဦအရေအတွက် အဆောက်အဦပုံစံ အကျယ်အဝန်း Layout Plan နှင့် မြေဂရန် အထောက်အထားများ ပူးတွဲ တင်ပြထားပါသည် ။

( ကျော်သက်နိုင် )
မန်နေဂျင်းဒါရိုက်တာ
ရုပ်ပျိုကုမ္ပဏီလီမိတက်

မိတ္တူ -

- လက်ခံ ။

Head Office No.(3/168), Yan Gyi Aung Street, (1) Quarter, Shwe Bo, Sagaing Region. Ph : 075-21252, 21646, 21587, 22093
Mandalay Branch 6 / 6 - 83 , 68 Street, 40 x 41 Between , Mahar Myaing Quarter , Mahar Aung Myae Township , Mandalay Region . Ph : 09 - 6460818 , 6460836 , 09-2032995

ပုံစံ ( ၄ - က )

# အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ စီမံ ( တင်ပြစာ ) / ( ၉/၂၀၁၈ ) ( ၁၅၁ )
ရက်စွဲ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာ လ ၁၉ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် ဦးကျော်သက်နိုင်

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် No.102159519
ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် ၅/ရဘန(နိုင်)၁၄၈၁၈၇
အမှတ်/နိုင်ငံကူးလက်မှတ်အမှတ်

(ဂ) နိုင်ငံသား

(ဃ) နေရပ်လိပ်စာ/ မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ C-5,6,7,8 ရုပ်ပျိုလမ်း ၊ ရွှေဘိုစက်မှုဇုန်

(င) တယ်လီဖုန်း /ဖက်စ် / အီးမေးလ်လိပ်စာ kyawthetnaing.yokepyo@gmail.com

(စ) လုပ်ငန်းအမျိုးအစား(အသေးစိတ်ဖော်ပြပေးရန်) တိုင်းရင်းဆေးဝါးထုတ်လုပ်ရေးလုပ်ငန်း

မှတ်ချက်။ အောက်ပါအချက်များကိုပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် -

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် -
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် -

(ဃ) နိုင်ငံသား -

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ -

(စ) တယ်လီဖုန်း /ဖက်စ် ........ -

(ဆ) အီးမေးလ်လိပ်စာ ........ -

**မှတ်ချက်။** တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

၃။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

■ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ........ 500 ........ %

အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ........ %

နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ........ %

၄။ အစုရှယ်ယာ ၁၀ % နှုန်းနှင့်အထက်ပိုင်ဆိုင်သောအစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁။ | ဒေါ်တင်နု | ၅/ရဘန(နိုင်)ဝ၁ဝ၇၅၂ | 250 / Shares |
| ၂။ | ဦးကျော်သက်နိုင် | ၅/ရဘန(နိုင်)၁၄၈၁၈၇ | 250 / Shares |
| | | | |
| | | | |
| | | | |
| | | | |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ........ 50000000 Ks

(ခ) အစုရှယ်ယာအမျိုးအစား ........ သာမာန် ( Ordinary )

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ ........ 500 / Shares

........

**မှတ်ချက်။** သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ကုမ္ပဏီဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲတင်ပြရန်

၆။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ–

**ကျပ် / US $ (သန်းပေါင်း)**

( က ) ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်း 1,355,406,395/ Ks

ပမာဏ / ရာခိုင်နှုန်း

( ခ ) နိုင်ငံခြားမှယူဆောင်လာသည့်မတည်ငွေရင်း ........................................

ပမာဏ / ရာခိုင်နှုန်း ____________________

စုစုပေါင်း ____________________

၇။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း ........................................

၈။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့ အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ–

( က ) ရင်းနှီးမြှုပ်နှံပြုလုပ်မည့်ဒေသ(များ)/တည်နေရာ C - 5,6,7,8

ရုပ်ပျိုလမ်း၊ ရွှေဘိုစက်မှုဇုန်

( ခ ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ 1,355,406,395/ Ks

၉။ သက်ဆိုင်ရာအဖွဲ့ အစည်းများ၏ခွင့်ပြုချက်၊ လိုင်စင်၊ ပါမစ်စသည်တို့ ရရှိပြီးပါက ပူးတွဲတင်ပြရန်။

၁၀။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း ☐ ရှိ၊ ■ မရှိ

ရှိပါကလုပ်ငန်းဆောင်ရွက်မှုအခြေအနေကိုဖော်ပြပေးရန်

........................................

အဆောက်အဦဆောက်လုပ်နေဆဲဆောက်လုပ်နေဆဲ နှင့် ဆေးဝါးများ မှတ်ပုံတင်ထားဆဲ ကာလ

၁၁။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်းရှိ/မရှိ ဖော်ပြရန်။

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

■ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

လျှောက်ထားသူလက်မှတ်

အမည် ဦးကျော်သက်နိုင်

ရာထူး မန်နေဂျင်းဒါရိုက်တာ

ဌာန/ကုမ္ပဏီတံဆိပ် ရုပ်ပျိုကုမ္ပဏီလီမိတက်

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှု ရှိပါကြောင်းအာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့် ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့်အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေး ကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက် နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ............ ဦးကျော်သက်နိုင်

ရာထူး ............ မန်နေဂျင်းဒါရိုက်တာ

ဌာန/ကုမ္ပဏီတံဆိပ် ............ ရုပ်ပို့ ကုမ္ပဏီလီမိတက်



# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

# Certificate of Incorporation

**ရုပ်ပျို ကုမ္ပဏီ လီမိတက်**

**YOKE PYO COMPANY LIMITED**

Company Registration No. 102159519

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ၁၉၁၄ ခုနှစ် အရ

**ရုပ်ပျို ကုမ္ပဏီ လီမိတက်**

အား ၂၀၁၂ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့တွင်

အစုရှယ်ယာအားဖြင့် တာဝန်ကန့်သတ်ထား သည့် အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

အဖြစ် ဖွဲ့စည်းမှတ်ပုံတင်ခွင့် ပြုလိုက်သည်။

This is to certify that

**YOKE PYO COMPANY LIMITED**

was incorporated under the Myanmar Companies Act 1914 on 20 November 2012 as a Private Company Limited by Shares.

ကုမ္ပဏီမှတ်ပုံတင်အရာရှိ

Registrar of Companies

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

Directorate of Investment and Company Administration




Former Registration No. 3429/2012-2013




# *Certificate of Registration*

This certificate has been awarded to

**YOKE PYO CO., LTD.**

C.5, 6, 7, 8 Yoke Pyo Road, Shwebo Industrial Zone,
Sagaing Region, Myanmar

in recognition of the organization's Quality Management System which complies with

**ISO 9001:2015**

The scope of activities covered by this certificate is defined below

**Research & Development, Manufacture and Distribution of Myanmar Traditional Medicines**

| Certificate Number: | Date of Issue: (Original) | Date of Issue: |
|---|---|---|
| 100505/A/0002/UK/En | 17 March 2018 | 17 March 2018 |
| Issue No: | Expiry Date: | |
| 1 | 16 March 2021 | |

Issued by: *On behalf of the Schemes Manager*















# *Certificate of Registration*

This certificate has been awarded to

**YOKE PYO CO., LTD.**

No. 3/101, Yan Gyi Aung Road, Shwebo, Sagaing Region, Myanmar

in recognition of the organization's Quality Management System which complies with

**ISO 9001:2015**

The scope of activities covered by this certificate is defined below

**Research & Development, Manufacture and Distribution of Myanmar Traditional Medicines**

| Certificate Number: | Date of Issue: (Original) | Date of Issue: |
|---|---|---|
| 100505/A/0001/UK/En | 17 March 2018 | 17 March 2018 |
| Issue No: | Expiry Date: | |
| 1 | 16 March 2021 | |

Issued by: *On behalf of the Schemes Manager*












21109



# The Government of the Republic of the Union of Myanmar
## Ministry of Commerce
## Department of Trade

# CERTIFICATE OF EXPORTER/IMPORTER REGISTRATION

1. Enterprise Name (မြန်မာ/အင်္ဂလိပ်) YOKE PYO COMPANY LIMITED.

2. Registration No: 42390(08-11-16)

3. Registration Term: FIVE YEAR

4. Start Date : 08-11-2016

5. End Date : 19-11-2020

6. Address : (မြန်မာ/အင်္ဂလိပ်) No.(3/108), Yan Gyi Aung Street, No.(3) Quarter, Shwebo Township, Sagaing Region,Myanmar

7. Business Registration No : 3429/2012-2013(20-11-2012)

8. Type of Business : (မြန်မာ/အင်္ဂလိပ်)
- ☐ Sole Proprietorship(တစ်ဦးတည်းပိုင်)
- ☐ Partnership(အစုအစပ်)
- ☑ Limited Company(လီမိတက်ကုမ္ပဏီ)(Myanmar/~~Foreign~~)
- ☐ Co-operative Society(သမဝါယမအသင်း)
- ☐ Others(Please specify)အခြား(ဖော်ပြရန်) သင်းဖွဲ့မှတ်တမ်းပါလုပ်ငန်း( )မျိုး ဆောင်ရွက်ခွင့်ရှိသည်။

9. Type of Service : ● New ○ Extension

10. Contact No :

075-21252 21646 21587 02-31484 09400512957

| Telephone No. | Fax No. | e-mail |
|---|---|---|

11. Remarks :

12. Terms and Conditions : စည်းကမ်းချက်များ

I hereby register the above mentioned enterprise as Exporter/Importer subject to the following terms and conditions: (အောက်ဖော်ပြပါစည်းကမ်းချက်များဖြင့် ပို့ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်တမ်းတင်ခွင့်ပြုသည်)

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် - တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ကုန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the Export/Import rules and Regulations prescribed for the registered Exporters/Importers.(လုပ်ငန်းရှင်သည် မှတ်ပုံတင် ပို့ကုန်သွင်းကုန်လုပ်ငန်းလုပ်ကိုင်သူများ လိုက်နာရမည့်စည်းကမ်းချက်များကို လိုက်နာရမည်)




For Director General

EIREG111688EIREGEX12130012

**လုပ်ငန်းရည်ရွယ်ချက်များမှာ**

လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း
(ကျွန်းမှအပ) သစ်နှင့်သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
တိရိစ္ဆာန်မွေးမြူခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း
ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း
ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း
ယာဉ်နှင့် စက်ကိရိယာများနှင့် အပိုပစ္စည်းများ ထုတ်လုပ်ခြင်း
လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း
ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း
စက်ရုံသုံးပစ္စည်းများထုတ်လုပ်ခြင်း
လျှပ်စစ်နှင့် အီလက်ထရောနစ်ကုန်ပစ္စည်းများထုတ်လုပ်ခြင်း
အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း
အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသော ကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်
အိမ်သုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း
လူသုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း

